(၁၀.၁၀.၉၈) ၁၇/၉၈ MIC [illegible]

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၉၁၉/၉၈(၄၈၈၁)။

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ၆ ရက်။

အမှာစာ

အကြောင်းအရာ။ ။ဖုန်းချီကုမ္ပဏီလီမိတက်မှ သစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖုန်းချီကုမ္ပဏီလီမိတက် (Fong Chi Co.,Ltd) မှ သစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ၁၈-၉-၉၈ နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၈) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းကိရိယာများဝယ်ယူရန် ရွှေဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း) နှင့် ငွေရေးကြေးရေးဆိုင်ရာစာရွက်စာတမ်းများကို နောက်ဆက်တွဲ (၁) တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၅၀) သန်းအပါအဝင်ကျပ် (၄၃.၀[illegible]) သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၁၃.၀၀) သန်း [အမေရိကန်ဒေါ်လာ (၀.၅၀) သန်းအပါအဝင်]၊ ဆောက်အဦတန်ဖိုးကျပ် (၁၈.၀၀) သန်း၊ မြေတန်ဖိုးကျပ် (၆.၀၀) သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် (၆.၀၀) သန်း [အမေရိကန်ဒေါ်လာ (၁.၀၀) သန်း] ကိုထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ကုန်ကြမ်းပစ္စည်းဝယ်ယူရန်လိုအပ်သောငွေသားနှင့်စက်ပစ္စည်းကိရိယာများကို ထိုင်းနိုင်ငံ Chung Thai Dee Intertrade Co., Ltd. - မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၆) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

လျှို့ဝှက်

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ဒါရိုက်တာ ဦးမျိုးဂင်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်မြေ၊ မြေကွက်အမှတ် ၅၂(က)၊ မြေတိုင်းရပ်ကွက် (၄၂)၊ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်ရှိ မြေ ၀.၆၈၈ ဧက (၂၇၈၄.၂၄ စတုရန်းမီတာ) ပေါ်တွင် စက်ရုံတည်ဆောက်ပြီး သစ်အခြေခံပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ကျွန်းသစ်ဖြင့် ပြုလုပ်သော သစ်အခြေခံပစ္စည်းများကို ပြည်ပသို့ (၈၀) ရာခိုင်နှုန်း တင်ပို့၍ ကျန် (၂၀) ရာခိုင်နှုန်း ကိုပြည်တွင်း တွင်ရောင်းချပြီး သစ်မာဖြင့်ပြုလုပ်သော သစ်အခြေခံပစ္စည်းများ ကိုပြည်ပသို့ (၆၅) ရာခိုင်နှုန်း တင်ပို့၍ ပြည်တွင်းတွင် (၃၅) ရာခိုင်နှုန်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ပြည်တွင်း | | ပြည်ပ | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (HT) | ရောင်းဈေးနှုန်း (ကျပ် / HT) | ထုတ်လုပ်မှု (HT) | ရောင်းဈေးနှုန်း (US$/HT) |
| | Teak | (၂၀%) | | (၈၀%) | |
| | - Door/Window | ၉၅ | ၃၀၀၀၀၀ | ၃၇၈ | ၃၆၀၀ |
| | - Furniture | ၆၃ | ၂၅၀၀၀၀ | ၂၅၂ | ၃၀၀၀ |
| | - Frame, Skirting, Parquet | ၅၂ | ၂၂၀၀၀၀ | ၂၁၀ | ၂၅၀၀ |
| | Hardwood | (၃၅%) | | (၆၅%) | |
| | - Door/Window | ၈၈ | ၁၄၀၀၀၀ | ၁၆၄ | ၁၂၅၀ |
| | - Furniture | ၅၉ | ၁၂၀၀၀၀ | ၁၀၉ | ၁၀၀၀ |
| | - Frame, Skirting Parquet | ၄၉ | ၈၅၀၀၀ | ၉၁ | ၉၀၀ |

၅။ ဤလုပ်ငန်း အတွက်လိုအပ်သော ကျွန်းသစ်ကုန်ကြမ်းများကို မြန်မာ့သစ်လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ဝယ်ယူမည်ဖြစ်ပြီး၊ သစ်မာကုန်ကြမ်းများကို မြန်မာ့သစ်လုပ်ငန်းနှင့်တရားဝင်လုပ်ကိုင်ခွင့်ပြုထားသည့် ပုဂ္ဂလိကလုပ်ငန်းများမှ ကျပ်ငွေဖြင့်လည်းကောင်း၊ နိုင်ငံခြားငွေဖြင့်လည်းကောင်း ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သိန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၇၉.၂၆ | ၁၈.၂၃ | ၉၇.၄၉ |
| (ခ) အသုံးစရိတ် | ၇၅.၂၀ | ၁၅.၀၀ | ၉၀.၂၀ |
| (ဂ) အသားတင်အမြတ် | ၄.၀၅ | ၃.၂၃ | ၇.၂၈ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေရှန် (ကျပ်သိန်း) ၁.၇၄

(အမေရိကန်ဒေါ်လာသန်း) ၀.၀၉

(ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သိန်း) ၁၅.၈၅

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်း မှဝန်ထမ်း (၇၁) ဦးနှင့်ပြည်ပမှဝန်ထမ်း (၂) ဦး၊ စုစုပေါင်း (၇၃) ဦးခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာအထောက်အထားအဖြစ် Fong Chi Co., Ltd. ၏ ၁၉၉၇-၉၈ ခုနှစ်အတွက်ဘဏ္ဍာရေး ရှင်းတမ်းများ ကိုတင်ပြထား ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်သစ်တောရေး ရာဝန်ကြီးဌာနသို့သဘောထား မှတ်ချက် တောင်းခံထား ဆဲဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့်နှင့် ပိတ်သတ် တည်ဆောက်ရေး ကာလအတွင်း Saloon တစ်စီး နှင့် Truck တစ်စီးကို အခွန်အကောက်ကင်း သွင်းခွင့်ဖြင့်လည်း ကောင်း၊ လုပ်ငန်းဆောင်ရွက်ချိန်တွင် Truck တစ်စီး နှင့် Pick-up တစ်စီး ကိုအခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်း ခွင့်ပြုရန် (၁၇/၉၈) ကြိမ်မြောက်ကြိုတင်ညှိနှိုင်း အစည်းအဝေးမှဆုံး ဖြတ်ခဲ့ပါသည်။

၁၂။ ဤလုပ်ငန်း သည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်နှင့်မီးဘေးအန္တရာယ်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေ ရယူခြင်း သည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိဘဲအဆိုပြုလုပ်ငန်း မှ ရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂နှင့်၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရစီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃)နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို တောင်းခံထား ရာယင်းအပေါ်သုံးသပ်တင်ပြချက်ကို ပူးတွဲ တင်ပြထားပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်

(က) ဖုန်းချီကုမ္ပဏီလီမိတက်မှသစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) သဘောတူပါကအထက်အပိုဒ် (၁၃) ပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)
[ဒေါက်တာထွန်းရွှင်၊ဒုတိယညွှန်ကြားရေးမှူးချုပ်]

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



မ၁[illegible]၆/၁၀/၉၀။

ပူးတွဲ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်းသုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကိုဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ ပြည်ပသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် (၅၀) ရာခိုင်နှုန်း[illegible] ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်ဆောင်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည့်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ (၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ၊ ပြည်ပသို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၁/၉၆ အရ အကျုံးဝင်ပြီးဖြစ်ပါသည်။



* ကျော် ၁၁-၈-၉၈။

၅။ ဖွန်း ချီကုမ္ပဏီလီမိတက် (Fong Chi Co., Ltd.) မှသစ်အခြေခံပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရှိမှ လုပ်ငန်းအဓိကအချက်များကို ရှင်းလင်းတင်ပြပါသည်။

ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်မှ တင်ပြထားသည့်စက်ပစ္စည်းစာရင်းတွင်ပါဝင်သည့် Sr.No(53) နှင့်ဖော်ပြထားသည့် Isuzu Diesel Engines (၅) လုံး၏တန်ဖိုးမှာ လွန်စွာနည်းနေကြောင်း (၂) လုံးတန်ဖိုးသာဖြစ်နိုင်ကြောင်း၊ ထို့အတူ Sr.No. (54) ရှိ Generator (၁) လုံး တန်ဖိုးအမေရိကန်ဒေါ်လာ ၁၁၆၅ မှာလည်း မဖြစ်နိုင်ကြောင်း၊ ဘာအတွက်လိုအပ်သည်ကိုမေး

၁၇/၈၈ M.E.C Yarana: (၁၇.၉.၈၈)

ချိ၄က်

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | မြန်းရန်လို ကြောင်း၊ ပြောကြားပါသည်။ မော်တော်ယာဉ်တင်သွင်းမှု နှင့် စပ်လျဉ်း၍ တည် ဆောက်ဆဲကာလအတွင်း Saloon တစ်စီး Truck တစ်စီးတို့ ကိုအခွန်အ ကောက်ကင်းလွန်ခွင့်ဖြင့်လည်း ကောင်းလုပ်ငန်း ဆောင်ရွက်မှု ကာလအတွင်း Pick-up တစ်စီး Truck တစ်စီးတို့ကိုအခွန်အ ကောက်၅၀% သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုကြောင်း ပြောကြား ပါ သည်။ | |
| | **ဆုံး ဖြတ်ချက်။** | |
| | (၁) စက်နှင့်စက်ကရိယာပစ္စည်း စာရင်း တွင် ဖော်ပြထား သည့်အမှတ်စဉ် (၇၃) Isuzu Diesel Engine နှင့် အမှတ်စဉ် (၅၄) Generator .. တို့၏တန်ဖိုး များ ကို သေချာစွာ စိစစ်ရန်နှင့် မည်သည့်အတွက်လိုအပ် သည်ကို မေး မြန်း ရန်၊ | အတွင်းရေးမှူး ဆောက်လုပ်ရေး ဝန်ကြီးဌာန FCEC |
| | (၂) မော်တော်ယာဉ်တင်သွင်း မှုနှင့်စပ်လျဉ်း၍လုပ်ငန်း တည် ဆောက်ဆဲကာလအတွင်း Saloon တစ်စီး ၊ Truck တစ်စီး တို့ကိုအခွန်အ ကောက်ကင်း လွတ်ခွင့် ဖြင့်လည်း ကောင်း ၊လုပ်ငန်း ဆောင်ရွက်မှုကာလအ တွင်း Pick-up တစ်စီး ၊ Truck တစ်စီးတို့ကို အခွန်အ ကောက်၅၀% သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်။ | |
| | (၃) သင်း လုပ်ငန်း ဆောင်ရွက်ရန်မှုအား ဖြင့်သဘောတူ သဖြင့် ကော်မရှင်အစည်း အဝေး သို့ဆက်လက်တင်ပြ ရန် | |

R-၅၃၃၈ / ၂၂.၁၂.၉၈

၄၆၄၁ / ၂၂.၁၂.၉၈

အထွေထွေ အရပ်ရပ် – ၁၆

( ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

အကြောင်းအရာ။ ။ <u>ဖုန်းချီကုမ္ပဏီလီမိတက်မှ သစ်အခြေခံပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖုန်းချီကုမ္ပဏီလီမိတက် (Fong Chi Co., Ltd ) မှ မန်နေဂျင်းဒါရိုက်တာဖြစ်သူ ဦးမျိုးဝင်းအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၂/က) ရှိမြေ (၀.၆၈၈) ဧက (၂၇၈၄.၂၄ စတုရန်းမီတာ) ပေါ်တွင် စက်ရုံတည်ဆောက်ပြီး၊ သစ်အခြေခံပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၉-၁၀-၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈/၉၈) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၁၀-၁၂-၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၄၃/၉၈) ကြိမ်မြောက်အစည်းအဝေးမှ သဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့်ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၄)၊ အပိုဒ် ၁၂ တို့နှင့်အညီ ဖုန်းချီကုမ္ပဏီလီမိတက် ( Fong Chi Co., Ltd. ) သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့်ယင်းခွင့်ပြုမိန့် ထုတ်ပေးမည့် အမှာစာ (မူကြမ်း) ကိုသဘောတူအတည်ပြုပေးနိုင်ပါရန် ပြုရ တင်ပြ အမိန့်နာခံအပ်ပါသည်။

၂၂-၁၂-၉၇။

အတွင်းရေးမှူး ( ဝန်ကြီး )။ ၂၂/၁၂

Permit တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၂၂/၁၂

ဥက္ကဋ္ဌ ( ဒုတိယဝန်ကြီးချုပ် )။

၂၄/၁၂

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၁၉/၉၀ (၆၁၆၅)
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဒီဇင်ဘာလ ၄ ရက်

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ ။ <u>ဖုန်းချီကုမ္ပဏီလီမိတက်မှသစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြမှု ခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဖုန်းချီကုမ္ပဏီလီမိတက် (Fong Chi Co.,Ltd) မှသစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၉-၁၀-၉၀) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၉၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်း စနစ်သဘောတူစာချုပ် (မူကြမ်း) ကို <u>နောက်ဆက်တွဲ (၁)</u> အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၅၀) သန်း အပါအဝင်ကျပ် (၄၃.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ် (၁၃.၀၀) သန်း [အမေရိကန်ဒေါ်လာ (၀.၅၀) သန်း အပါအဝင်]၊ အဆောက်အဦတန်ဖိုး ကျပ် (၁၀.၀၀) သန်း ၊ မြေတန်ဖိုး ကျပ် (၆.၀၀) သန်း ၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ် (၆.၀၀) သန်း [အမေရိကန်ဒေါ်လာ (၁.၀၀) သန်း] ကို ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ ကုန်ကြမ်းပစ္စည်း ဝယ်ယူရန်လိုအပ်သောငွေသားနှင့်စက်ပစ္စည်းကိရိယာများကိုထိုင်းနိုင်ငံ Chung Thai Dee Intertrade Co., Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်

လျှင်အတိုးနှုန်း (၆) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ဒါရိုက်တာဦးမျိုးဝင်းအမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ၊ မြေကွက်အမှတ် ၅၂ (က)၊ မြေတိုင်းရပ်ကွက် (၄၂)၊ စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်ရှိ မြေ ၀.၆၈၈ ဧက (၂၇၈၄.၂၄ စတုရန်းမီတာ) ပေါ်တွင်စက်ရုံတည်ဆောက်ပြီး သစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှကျွန်းသစ်ဖြင့်ပြုလုပ်သောသစ်အခြေခံပစ္စည်းများကို ပြည်ပသို့ (၈၀) ရာခိုင်နှုန်းတင်ပို့၍ကျန် (၂၀) ရာခိုင်နှုန်းကိုပြည်တွင်း တွင် ရောင်းချပြီး၊ သစ်မာဖြင့်ပြုလုပ်သောသစ်အခြေခံပစ္စည်းများကိုပြည်ပသို့ (၆၅) ရာခိုင်နှုန်းတင်ပို့၍ပြည်တွင်းတွင် (၃၅) ရာခိုင်နှုန်း ရောင်းချမည်ဖြစ် ပါသည်။ ပုံမှန်နှစ်၏ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ပြည်တွင်း | | ပြည်ပ | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (HT) | ရောင်းဈေးနှုန်း (ကျပ် / HT) | ထုတ်လုပ်မှု (HT) | ရောင်းဈေးနှုန်း (US $ / HT) |
| ၁။ | Teak | (၂၀%) | | (၈၀%) | |
| | - Door/Window | ၉၅ | ၃၀၀၀၀၀ | ၃၇၈ | ၃၆၀၀ |
| | - Furniture | ၆၃ | ၂၅၀၀၀၀ | ၂၅၂ | ၃၀၀၀ |
| | - Frame, Skirting, Parquet | ၅၂ | ၂၂၀၀၀၀ | ၂၁၀ | ၂၅၀၀ |
| ၂။ | Hardwood | (၃၅%) | | (၆၅%) | |
| | - Door/Window | ၈၈ | ၁၄၀၀၀၀ | ၁၆၄ | ၁၂၅၀ |
| | - Furniture | ၅၉ | ၁၂၀၀၀၀ | ၁၀၉ | ၁၀၀၀ |
| | - Frame, Skirting, Parquet | ၄၉ | ၈၅၀၀၀ | ၉၁ | ၉၀၀ |

၅။ ဤလုပ်ငန်းအတွက်လိုအပ်သော ကျွန်းသစ်ကုန်ကြမ်းများကို မြန်မာ့သစ်လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့်ဝယ်ယူမည်ဖြစ်ပြီး၊ သစ်မာကုန်ကြမ်းများကိုမြန်မာ

သစ်လုပ်ငန်းနှင့်တရားဝင်လုပ်ကိုင်ခွင့်ပြုထားသည့်ပုဂ္ဂလိကလုပ်ငန်းများမှကျပ်ငွေဖြင့်လည်းကောင်း၊ နိုင်ငံခြားငွေဖြင့်လည်းကောင်း ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်--

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၇၉.၂၆ | ၁၈.၂၃ | ၉၇.၄၉ |
| (ခ) အသုံးစရိတ် | ၇၅.၂၀ | ၁၅.၀၀ | ၉၀.၂၀ |
| (ဂ) အသားတင်အမြတ် | ၄.၀၅ | ၃.၂၃ | ၇.၂၈ |

၇။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| (က) ဝင်ငွေခွန် (ကျပ်သန်း) | ၁,၇၄ |
| (အမေရိကန်ဒေါ်လာသန်း) | ၀.၀၉ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၁၅.၈၅ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်ပြည်တွင်းမှဝန်ထမ်း (၇၁) ဦးနှင့်ပြည်ပမှဝန်ထမ်း (၂) ဦး၊ စုစုပေါင်း (၇၃) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်သစ်တောရေးရာဝန်ကြီးဌာနသို့သဘောထားမှတ်ချက်တောင်းခံခဲ့ရာသစ်တောရေးရာဝန်ကြီးဌာန၏ မူဘောင်အတွင်းမှလုပ်ဆောင်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်နှင့်မီးဘေးအန္တရာယ်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပြည်ပမှချေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲအဆိုပြုလုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာပေးဆပ်မည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်း

များကိုလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ချက်ရန်အချက်။</u>

(က) ဖုန်းချိုကုမ္ပဏီလီမိတက်မှ သစ်အခြေခံပစ္စည်းထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ

သစ်တောရေးရာ ဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၂/၂၃၀( ၉ )( ၄ )/(၂၂၀၈ /၉၈)

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ __သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ__

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၀-၉၈ ရက်စွဲပါစာအမှတ်၊ ရက-၁/မ-၂၁၁/၉၈(၁၃၃၃)

၁။ Fong Chi Co., Ltd မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ် ရှိစက်မှုဇုန်တွင် သစ်အခြေခံပစ္စည်းများ ထုတ်လုပ်သည့်စက်ရုံတည်ဆောက်လိုခြင်းကိစ္စနှင့် ပတ်သက်၍ ရည်ညွှန်းချက်ဖြင့် မေတ္တာရပ်ခံလာသည့်စာအပေါ် ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကိုပြန်ကြားအပ်ပါသည်။

၂။ Fong Chi Co., Ltd မှတင်ပြချက်များအရ၊ ၎င်းတို့ လုပ်ငန်းအတွက် လိုအပ်သည့်ကျွန်းသစ်ကုန်ကြမ်းများကို နိုင်ငံခြားငွေဖြင့် လည်းကောင်း သစ်မာကုန်ကြမ်းများကိုမြန်မာ့သစ်လုပ်ငန်း နှင့်တရားဝင်သစ်ဝယ်ယူထုတ်လုပ်ခွင့်ရရှိသောပုဂ္ဂလိကလုပ်ငန်းရှင်များထံတွင် နိုင်ငံခြားငွေ/မြန်မာငွေဖြင့် လည်းကောင်း ဝယ်ယူမည်ဖြစ်ကြောင်း နှင့်ထွက်ရှိလာသောကုန်ချောများ၏ ၊ ၈၀% ကိုပြည်ပသို့လည်းကောင်း၊ ၂၀%ကို ပြည်တွင်းတွင်လည်း ကောင်းရောင်းချမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ရာတွင် သစ်တောရေးရာဝန်ကြီးဌာန၊မြန်မာ့ သစ်လုပ်ငန်း အနေဖြင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်ကုမ္ပဏီများ သို့ကျွန်း သစ်လုံးများကိုနိုင်ငံခြား ငွေ အမေရိကန်ဒေါ်လာဖြင့်သာတင်ဒါဈေးနှုန်း အတိုင်း ရောင်းချပေးလျက် ရှိပြီး တရားဝင်လမ်းကြောင်းမှမြန်မာကျပ်ငွေဖြင့်ဝယ်ယူရရှိထားသောသစ်မာ ကုန်ကြမ်းများမှထွက်ရှိလာသောကုန်ချောပစ္စည်းများအား ပြည်ပသို့ တင်ပို့ ရောင်းချလိုပါကရရှိငွေ၏ ၁၀% ကိုနိုင်ငံတော်(မြန်မာ့သစ်လုပ်ငန်း)သို့ပေး သွင်းပြီး မှသာတင်ပို့ခွင့်ပြုသည့်မူ သတ်မှတ်ထားပါသည်။

၂/-

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလျှောက်ထားလာသော Fong Chi Co., Ltd မှသစ်အချောထည်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်လိုခြင်း ကိစ္စကိုအထက် ဖော်ပြပါမြန်မာ့သစ်လုပ်ငန်း၏သတ်မှတ်ထားသည့် " မူ " ဘောင်အတွင်း မှလုပ်ဆောင်သွားမည် ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး ကိုယ်စား
( ဘချို ၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်</u>

မိတ္တူ - ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့သစ်လုပ်ငန်း